# Myanmar C.P Livestock Co., Ltd. မှ တင်ပြသည့် အဆိုပြုလွှာနှင့် စပ်လျဉ်း၍ လုပ်ငန်းဆောင်ရွက်မှုမှတ်တမ်း

## ဥစားမျိုးကြက်မွေးမြူခြင်းလုပ်ငန်း

| စဉ် | ဆောင်ရွက်သည့်အကြောင်းအရာ | ဆောင်ရွက်သည့် ရက်စွဲ | အကြောင်းပြန်ကြားသည့် ရက်စွဲ/ ကုမ္ပဏီမှတင်ပြသည့် ရက်စွဲ | မှတ်ချက် |
|---|---|---|---|---|
| ၁ | ရန်ကုန်တိုင်းဒေသကြီး ရင်းနှီးမြှုပ်နှံမှု ကော်မတီသို့ အတည်ပြုလျှောက်ထားလွှာ တင်ပြခြင်း | | ၁၀-၅-၂၀၁၉ | |
| ၂ | လုပ်ငန်း လိုအပ်ချက်အရ သက်ဆိုင်ရာ ဝန်ကြီးဌာန များသို့ သဘောထား တောင်းခံခြင်း<br>- ပတ်ဝန်းကျင် ထိန်းသိမ်းရေး ဦးစီးဌာန (One Stop Service) | ၂၇-၅-၂၀၁၉ | ၇-၆-၂၀၁၉ | |
| ၃ | ရန်ကုန်တိုင်းဒေသကြီး ရင်းနှီးမြှုပ်နှံမှု ကော်မတီမှ အတည်ပြုလွှာ လွှဲပြောင်း ပေးပို့ခြင်း | ၄-၆-၂၀၁၉ | | ပတ်ဝန်းကျင်သဘောထားအရ EIA ဖြစ်၍ လွှဲပြောင်း ပေးပို့ လာခြင်း ဖြစ်ပါသည်။ |
| ၃ | ကုမ္ပဏီမှ အဆိုပြုလွှာအား ပုံစံ (၂) ဖြင့် ပြင်ဆင်တင်ပြလာခြင်း | ၄-၆-၂၀၁၉ | | |
| ၄ | အဆိုပြုချက်စိစစ်ရေးအဖွဲ့ အစည်းအဝေးသို့ တင်ပြခြင်း | ၂၀/၂၀၁၉<br>(၁၀-၆-၂၀၁၉) | | |
| ၅ | အဆိုပြုချက်အားလက်ခံကြောင်း ပြန်ကြားခြင်း | ၁၅-၆-၂၀၁၉ | | |
| ၆ | အဆိုပြုချက်စိစစ်ရေးအဖွဲ့အစည်း အဝေးဆုံးဖြတ်ချက်အရ ပြင်ဆင် တင်ပြရန်အကြောင်းကြားခြင်း | ၁၈-၆-၂၀၁၉ | | |
| ၇ | အဆိုပြုချက်အား ကော်မရှင် အစည်းအဝေးသို့ တင်ပြခြင်း | ၁၀/၂၀၁၉<br>၂၈-၆-၂၀၁၉ | | |
| | စုစုပေါင်းကြာမြင့်ရက် | (၂၄) ရက် | | |

# အဆိုပြုချက်စိစစ်ရေးအဖွဲ့၏ ဆွေးနွေးချက်၊ ဆုံးဖြတ်ချက်အပေါ် ဆောင်ရွက်ပြီးစီးမှု

ကုမ္ပဏီအမည် Myanmar C.P Livestock Co., Ltd.

လုပ်ငန်းအမျိုးအစား ဥစားမျိုးကြက်မွေးမြူခြင်း လုပ်ငန်း

PATအကြိမ်/နေ့စွဲ ၂၀/၂၀၁၉ (၁၀-၆-၂၀၁၉)

| စဉ် | အဆိုပြုချက်စိစစ်ရေးအဖွဲ့၏ ဆုံးဖြတ်ချက်အပေါ် ပြင်ဆင်ရန် အချက်များ | ဆောင်ရွက်ပြီးစီးမှု ပြီး ✓ မပြီး X | မှတ်ချက် |
|---|---|---|---|
| ၁ | လုပ်ငန်းအမျိုးအစား ပြင်ဆင်တင်ပြရန်။ | ✓ | |
| ၂ | လုပ်ငန်းစီမံကိန်း၏ တည်နေရာပြမြေပုံနှင့် Layout Plan တင်ပြရန်။ | ✓ | |
| ၃ | ရင်းနှီးမြှုပ်နှံမှုပြုလုပ်သည့် အရပ်ဒေသအား ဖော်ပြရာတွင် လက်ရှိသတ်မှတ်ထားသောဇုန်အမှတ်များဖြင့် ပြင်ဆင်ဖြည့်စွက်တင်ပြရန်။ | ✓ | |
| ၄ | အသုံးပြုမည့် Vaccine များနှင့် Medicine များကို အမျိုးအစား ခွဲခြားဖော်ပြရန်။ | ✓ | |
| ၅ | မြေငှားစာချုပ်တွင် ဖော်ပြထားသော Arbitration Law အား Myanmar Arbitration Law (2016) ဟု ပြင်ဆင်ဖော်ပြရန်။ | ✓ | |

အကြောင်းအရာ။ ရာခိုင်နှုန်းပြည့်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် Myanmar C.P Livestock Co., Ltd. မှ ဥစားမျိုးကြက်မွေးမြူခြင်းလုပ်ငန်း ဆောင်ရွက်ခွင့် ပြုပါရန် အဆိုပြုချက် တင်ပြလာခြင်းကိစ္စ

| | | |
|---|---|---|
| ၁။ | ကုမ္ပဏီအမည်/<br>ရင်းနှီးမြှုပ်နှံသူ | - Myanmar C.P Livestock Co., Ltd.<br>- Mr. Uthai Tantipimolphan (Thai) |
| | ရင်းနှီးမြှုပ်နှံမှုပုံသဏ္ဌာန် | - ရာခိုင်နှုန်းပြည့်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု<br>- Thana Holding Co., Ltd. (Thailand) ၂၇ %<br>Charoen Pokphand Enterprise Co., Ltd.(Thailand)၂၅%<br>CPG Enterprise Ltd. (British Virgin Islands) ၄၈% |
| | လုပ်ငန်းအမျိုးအစား | - ဥစားမျိုးကြက်မွေးမြူခြင်းလုပ်ငန်း |
| ၂။ | တည်နေရာ | - မြေကွက်အမှတ် (၁၂၈၊ ၁၂၉)၊ စီ (၈)လမ်း၊ ညောင်နှစ်ပင် ဟင်းသီးဟင်းရွက် စိုက်ပျိုး ထုတ်လုပ်ရေးနှင့် ကြက်/ငါး မွေးမြူရေးအထူးဇုန် (၃)၊ ကွင်းအမှတ် (၉၇၇)၊ ကလီထော် အနောက် ကျေးရွာ အုပ်စု၊ ကွင်းအမှတ်(၉၈၇)၊ ကြာအင်း ကျေးရွာ အုပ်စု၊ လှည်းကူးမြို့နယ်၊ ရန်ကုန်တိုင်း ဒေသကြီး |
| ၃။ | မြေပိုင်ရှင် | - ဦးဇော်လင်းခံ |
| | မြေအမျိုးအစား | - ညောင်နှစ်ပင် ဟင်းသီးဟင်းရွက် စိုက်ပျိုးထုတ်လုပ်ရေးနှင့် ကြက်/ငါး မွေးမြူရေးဇုန် |
| | မြေအကျယ်အဝန်း | - စုစုပေါင်း မြေ ၁၀ ဧက (၄၀၄၆၈.၆ စတုရန်းမီတာ) |
| ၄။ | နှစ်စဉ် မြေငှားရမ်းခ | - တစ်စတုရန်းမီတာလျှင် US$ ၀.၅၈၉ |
| | မြေငှားရမ်း အသုံးပြုခွင့်<br>သက်တမ်း | - ကနဦး ၃၀ နှစ် နှင့် ၁၀ နှစ် ၂ ကြိမ်သက်တမ်းတိုး |
| ၅။ | ရင်းနှီးမြှုပ်နှံမှုပြုလုပ်လို<br>သည့်သက်တမ်း | - ကနဦး ၃၀ နှစ်နှင့် ၁၀ နှစ် ၂ ကြိမ်သက်တမ်းတိုး |
| | တည်ဆောက်မှုကာလ/<br>ပြင်ဆင်မှုကာလ | - ၁ နှစ် |
| ၆။ | စုစုပေါင်းမတည်ငွေရင်း<br>ပမာဏ | - **အမေရိကန်ဒေါ်လာ ၃.၉၆၄ သန်း (ချေးငွေ အမေရိကန် ဒေါ်လာ ၂.၇၇၅ သန်းအပါအဝင်)**<br>- |

ထည့်ဝင်သည့်အမျိုးအစား

| | | ဈေးငွေ (US$/သန်း) | ထည့်ဝင်ငွေ (US$/သန်း) | စုစုပေါင်း (US$/သန်း) |
|---|---|---|---|---|
| (က) | မြေသားပြုပြင်ခြင်း | | ၀.၀၇၆ | ၀.၀၇၆ |
| (ခ) | အဆောက်အအုံနှင့် အစိတ်အပိုင်းများ | ၀.၉၉၄ | ၀.၇၉၀ | ၁.၇၈၄ |
| (ဂ) | စက်ပစ္စည်းနှင့် စက်ကိရိယာများ၊ | ၁.၆၄၄ | | ၁.၆၄၄ |
| (ဃ) | အထွေထွေစရိတ် | | ၀.၂၆၄ | ၀.၂၆၄ |
| (င) | လှည့်လည်ငွေသား | ၀.၁၃၇ | ၀.၀၅၉ | ၀.၁၉၆ |
| | စုစုပေါင်း | ၂.၇၇၅ | ၁.၁၈၉ | ၃.၉၆၄ |

၇။ ဝန်ထမ်းအင်အား - **၃၆ ဦး**

ပြည်တွင်း - ၃၆ ဦး(ပြည်တွင်း ဝန်ထမ်းတစ်ဦး၏အနိမ့်ဆုံးလစာမှာ ကျပ် ၁၅၀,၀၀၀ ဖြစ်ပြီး အမြင့်ဆုံးလစာမှာ ကျပ် ၁,၀၀၀,၀၀၀ဖြစ်ပါသည်။)

၈။ ရောင်းချမည့်စနစ် - ပြည်တွင်း ၁၀၀%

နှစ်စဉ်ထုတ်လုပ်မှု(ပုံမှန်နှစ်)

| အမျိုးအစား | အရေအတွက် (bird) | ရောင်းချမည့် ဈေးနှုန်း (ကျပ်/ bird) |
|---|---|---|
| Pullet Bird | ၂၁၃,၂၈၁ | ၆,၂၀၀ |

၉။ လျှပ်စစ်ဓါတ်အားသုံးစွဲမှု (နှစ်စဉ်) - ၁၂၀,၀၀၀ kWh

၁၀။ အခြားတင်ပြချက် - မြေအထောက်အထားအဖြစ် ဦးချန်လီရှင် မှ ဦးဇော်လင်းဖုံသို့ ရောင်းချထားသည့် မြေကွက်အပြီးအပိုင် အရောင်းအဝယ်ကတိစာချုပ်နှင့် ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့၊ ညောင်နှစ်ပင် ဟင်းသီးဟင်းရွက် စိုက်ပျိုးထုတ်လုပ်ရေးနှင့် ကြက်/ ငါး မွေးမြူရေးအထူးဇုန် ကြီးကြပ်မှု ဗဟိုကော်မတီမှ ဦးချန်လီရှင် အမည်ဖြင့် လုပ်ငန်းလုပ်ကိုင်ခွင့် အမိန့်စာ၊ လှည်းကူးမြို့နယ်၊ ညောင်နှစ်ပင်၊ အထူးဇုန်(၃)စီမံခန့်ခွဲရေးကော်မတီဥက္ကဋ္ဌမှ ယခုလုပ်ငန်းဆောင်ရွက်မည့် မြေနေရာတွင် ဦးဇော်လင်းဖုံသည် လက်ရှိပိုင်ဆိုင်ကြောင်း ထောက်ခံချက်နှင့် အဆိုပါ မြေအား ဦးဇော်လင်းဖုံမှ ဝယ်ယူထားကြောင်း သတင်းစာကြော်ငြာတို့အား တင်ပြထားပါသည်။

| | | |
|---|---|---|
| | | - မြေပိုင်ရှင် ဦးချန်လီရှင်အမည်မှ အမည်ပြောင်းလဲ လုပ်ကိုင်ခွင့်ပြုရန် ညောင်နှစ်ပင် ဟင်းသီးဟင်းရွက် စိုက်ပျိုး ထုတ်လုပ်ရေးနှင့် ကြက်/ငါးမွေးမြူရေးအထူးဇုန်ကြီးကြပ်ရေး ဗဟိုကော်မတီ၊ ဥက္ကဋ္ဌထံသို့ ဦးဇော်လင်းဇံမှ လျှောက်ထားသည့် စာ အား တင်ပြထားပါသည်။<br>- ဦးဇော်လင်းဇံနှင့် Myanmar C.P Livestock Co., Ltd. တို့ချုပ်ဆိုမည့် မြေငှား စာချုပ်(မူကြမ်း)၊ စက်ရုံ Layout Plan တို့ကိုတင်ပြထားပါသည်။<br>- Myanmar C.P Livestock Co., Ltd. သည် ပြည်တွင်းရှိ နိုင်ငံခြားဘဏ်တစ်ခုခုမှ ချေးငွေ အမေရိကန် ဒေါ်လာ ၂,၇၇၅,၃၇၅ ချေးယူ မည်ဖြစ်ပြီး အတိုးနှုန်းနှင့် ပြန်လည်ပေးဆပ်မည့် အစီအစဉ် တို့ကို တင်ပြထားပါသည်။<br>- ဒါရိုက်တာများ၏ Passport မိတ္တူများ တင်ပြထားပါသည်။<br>- ငွေရေးကြေးရေး အထောက်အထားအဖြစ် မြန်မာနိုင်ငံရှိ ဘန်ကောက်ဘဏ်တွင် Myanmar C.P Livestock Co., Ltd. အမည်ဖြင့် အမေရိကန်ဒေါ်လာ ၂,၁၄၁,၇၂၃.၆၃ ရှိကြောင်း ဘဏ်အထောက်အထား တင်ပြထားပါသည်။<br>- ဝန်ထမ်းသက်သာ ချောင်ချိရေးအစီအစဉ်၊ လုပ်ငန်းခွင်အတွင်း လုံခြုံမှုထားရှိရေး အစီအစဉ်၊ ပတ်ဝန်းကျင် ထိန်းသိမ်းရေး အစီအစဉ်၊ မီးဘေးကြိုတင်ကာကွယ်ရေးစီမံချက်နှင့် CSR Project တို့ကို တင်ပြထားပါသည်။<br>- Tnana Holding Co., Ltd. နှင့် Charoen Pokphand Enterprise Co., Ltd. ၏ Certificate များနှင့် CPG Enterprise Co., Ltd. ၏ အမည်ပြောင်း ထောက်ခံချက်တင်ပြထားပါသည်။ |
| ၁၁။ | စိစစ်တင်ပြချက် | - အဆိုပြုလုပ်ငန်းသည် ဦးစားပေး မြှင့်တင်မည့် ရင်းနှီးမြှုပ်နှံမှုကဏ္ဍတွင် ပါဝင်ပြီး ISIC Code- 0146 တွင် အကျုံးဝင်ပါသည်။<br>- အဆိုပြုလုပ်ငန်းသည် ဇုန်(၂)တွင် ပါဝင်ပါသည်။<br>- အဆိုပြုလုပ်ငန်း၏ ရင်းနှီးမြှုပ်နှံမှုပမာဏမှာ US$ ၃.၉၆၅ သန်းသာ ရှိသော်လည်း ပတ်ဝန်းကျင် ထိခိုက်မှု ဆန်းစစ်ခြင်း (Environmental Impact Assessment-EIA) ဆောင်ရွက်ရမည့်လုပ်ငန်းဖြစ်သောကြောင့် ရန်ကုန်တိုင်းဒေသကြီးဦးစီးမှူးရုံးမှ အမှုတွဲအား လွှဲပြောင်းပေးပို့လာခြင်း ဖြစ်ပါသည်။ |

# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
# မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

စာအမှတ်၊ မရက-၂/ခ-၀၄၄/၂၀၁၉( ၁၈၁ )
ရက်စွဲ၊ ၂၀၁၉ ခုနှစ် ဇွန်လ ၂၇ ရက်

## မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ တင်ပြသည့် အမှာစာ

အကြောင်းအရာ။ **ရာခိုင်နှုန်းပြည့်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် Myanmar C.P Livestock Co., Ltd. မှ ဥစားမျိုးကြက်မွေးမြူခြင်းလုပ်ငန်း ဆောင်ရွက်ခွင့် ပြုပါရန် အဆိုပြုချက် တင်ပြလာခြင်းကိစ္စ**

၁။ ထိုင်းနိုင်ငံ ရှိ Thana Holding Co., Ltd. မှ ၂၇ %၊ Charoen Pokphand Enterprise Co., Ltd. မှ ၂၅% နှင့် British Virgin Islands ရှိ CPG Enterprise Ltd. မှ ၄၈% အစုရှယ်ယာ ထည့်ဝင်၍ မြန်မာနိုင်ငံတွင် တည်ထောင်ထားသည့် Myanmar C.P Livestock Co., Ltd. မှ ရာခိုင်နှုန်းပြည့် နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် မြေကွက်အမှတ် (၁၂၈၊ ၁၂၉)စီ (၈)လမ်း၊ ညောင်နှစ်ပင် ဟင်းသီးဟင်းရွက် စိုက်ပျိုး ထုတ်လုပ်ရေးနှင့် ကြက်/ငါး မွေးမြူရေးအထူးဇုန် (၃)၊ ကွင်းအမှတ် (၉၇၇)၊ ကလီထော် အနောက်ကျေးရွာအုပ်စု၊ ကွင်းအမှတ်(၉၈၇)၊ ကြာအင်းကျေးရွာအုပ်စု၊ လှည်းကူးမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီးရှိ မြေ ၁၀ ဧက (၄၀၄၆၈.၆ စတုရန်းမီတာ)အား ငှားရမ်း၍ ဥစားမျိုးကြက် မွေးမြူခြင်းလုပ်ငန်းအား မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေအရ ဆောင်ရွက်ခွင့်ပြုပါရန် မြန်မာနိုင်ငံ ရင်းနှီး မြှုပ်နှံမှု ကော်မရှင်သို့ အဆိုပြုချက် တင်ပြလာပါသည်။

၂။ မြေအထောက်အထားအဖြစ် ဦးချန်လီရှွင်မှ ဦးဇော်လင်းဖုံသို့ ရောင်းချထားသည့် မြေကွက် အပြီးအပိုင် အရောင်းအဝယ် ကတိစာချုပ်နှင့် ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့၊ ညောင်နှစ်ပင် ဟင်းသီးဟင်းရွက် စိုက်ပျိုးထုတ်လုပ်ရေးနှင့် ကြက်/ ငါး မွေးမြူရေးအထူးဇုန် ကြီးကြပ်မှု ဗဟို ကော်မတီမှ ဦးချန်လီရှွင် အမည်ဖြင့် လုပ်ငန်းလုပ်ကိုင်ခွင့် အမိန့်စာ၊ လှည်းကူးမြို့နယ်၊ ညောင်နှစ်ပင်၊ အထူးဇုန်(၃)စီမံခန့်ခွဲရေးကော်မတီဥက္ကဋ္ဌမှ ယခု လုပ်ငန်းဆောင်ရွက်မည့် မြေနေရာတွင် ဦးဇော်လင်းဖုံ သည် လက်ရှိပိုင်ဆိုင်ကြောင်း ထောက်ခံချက်နှင့် အဆိုပါမြေအား ဦးဇော်လင်းဖုံမှ ဝယ်ယူထားကြောင်း သတင်းစာကြော်ငြာတို့ အား တင်ပြထားပါသည်။ မြေပိုင်ရှင် ဦးဇော်လင်းဖုံနှင့် Myanmar C.P Livestock Co., Ltd. တို့ချုပ်ဆိုမည့် မြေငှား စာချုပ်(မူကြမ်း)၊ စက်ရုံ Layout Plan တို့ကို တင်ပြ ထားပါသည်။

၃။ မြေငှားသက်တမ်းမှာ ကနဦး ၃၀ နှစ် ဖြစ်ပြီး မြေငှားရမ်းခနှုန်းမှာ တစ်စတုရန်းမီတာလျှင် အမေရိကန်ဒေါ်လာ ၀.၅၈၉ ဖြစ်ပါသည်။

၄။ လုပ်ငန်းစီမံကိန်းကာလမှာ ၃၀ နှစ် ဖြစ်ပြီး တည်ဆောက်ရေးကာလမှာ ၁ နှစ် ကြာမြင့်မည်ဖြစ်ကြောင်း တင်ပြထားပါသည်။

၅။ လုပ်ငန်း၏ စုစုပေါင်း မတည်ငွေရင်းမှာ အမေရိကန်ဒေါ်လာ ၃.၉၆၄ သန်း (ချေးငွေ အမေရိကန် ဒေါ်လာ ၂.၇၇၅ သန်း အပါအဝင်)ဖြစ်ပြီး အောက်ပါအတိုင်း ထည့်ဝင်ထားပါသည်-

| | | ချေးငွေ (US$/သန်း) | ထည့်ဝင်ငွေ (US$/သန်း) | စုစုပေါင်း (US$/သန်း) |
|---|---|---|---|---|
| (က) | မြေသားပြုပြင်ခြင်း | | ၀.၀၇၆ | ၀.၀၇၆ |
| (ခ) | အဆောက်အအုံနှင့် အစိတ်အပိုင်းများ | ၀.၉၉၄ | ၀.၇၉၀ | ၁.၇၈၄ |
| (ဂ) | စက်ပစ္စည်းနှင့် စက်ကိရိယာများ၊ | ၁.၆၄၄ | | ၁.၆၄၄ |
| (ဃ) | အထွေထွေစရိတ် | | ၀.၂၆၄ | ၀.၂၆၄ |
| (င) | လုည့်လည်ငွေသား | ၀.၁၃၇ | ၀.၀၅၉ | ၀.၁၉၆ |
| | **စုစုပေါင်း** | **၂.၇၇၅** | **၁.၁၈၉** | **၃.၉၆၄** |

၆။ လုပ်ငန်းဆောင်ရွက်ရန်အတွက် ပြည်တွင်း ဝန်ထမ်း(၃၆)ဦး ခန့်ထားရာတွင် ဝန်ထမ်းတစ်ဦး၏ အနိမ့်ဆုံးလစာမှာ ကျပ် ၁၅၀,၀၀၀ ဖြစ်ပြီး အမြင့်ဆုံးလစာမှာ ကျပ် ၁,၀၀၀,၀၀၀ ဖြစ်ပါသည်။

၇။ အဆိုပြုလုပ်ငန်းမှ ထွက်ရှိမည့် ဥစားကြက်များအား ပြည်တွင်းတွင် ၁၀၀% ရောင်းချမည်ဖြစ်ပြီး ထုတ်လုပ်မှုနှင့် ရောင်းဈေးနှုန်းမှာ အောက်ပါအတိုင်း ဖြစ်ပါသည်-

| အမျိုးအစား | အရေအတွက် (bird) | ရောင်းချမည့် ဈေးနှုန်း (ကျပ်/ bird) |
|---|---|---|
| Pullet Bird | ၂၁၃,၂၈၁ | ၆,၂၀၀ |

၈။ အဆိုပြုလုပ်ငန်းနှင့်ပတ်သက်၍ **ရန်ကုန်တိုင်းဒေသကြီး၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေး ဦးစီးဌာန**မှ ပတ်ဝန်းကျင်ထိခိုက်မှု ဆန်းစစ်ခြင်း(Environmental Impact Assessment-EIA) ကို ပတ်ဝန်းကျင်ထိခိုက်မှု ဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်း အပိုဒ်(၄၉)၊ (၆၃)နှင့်အညီ ပြုစုဆောင်ရွက်ရန်နှင့် ပတ်ဝန်းကျင်စီမံခန့်ခွဲမှုအစီအစဉ် (Environmental Management Plan-EMP) ကို ရေးဆွဲတင်ပြရမည်ဖြစ်ကြောင်း ပြန်ကြားထားပါသည်။ **နောက်ဆက်တွဲ**

၉။ ငွေရေးကြေးရေးအထောက်အထားအဖြစ် မြန်မာနိုင်ငံရှိ ဘန်ကောက်ဘဏ်တွင် Myanmar C.P Livestock Co., Ltd. အမည်ဖြင့် အမေရိကန်ဒေါ်လာ ၂,၁၄၁,၇၂၃.၆၃ ရှိကြောင်း ဘဏ်အထောက်အထား တင်ပြထားပါသည်။

၁၀။ Myanmar C.P Livestock Co., Ltd. သည် ပြည်တွင်းရှိ နိုင်ငံခြားဘဏ်တစ်ခုခုမှ ချေးငွေ အမေရိကန် ဒေါ်လာ ၂,၇၇၅,၃၇၅ ချေးယူမည်ဖြစ်ပြီး အတိုးနှုန်းနှင့် ပြန်လည်ပေးဆပ်မည့် အစီအစဉ် တို့ကို တင်ပြထားပါသည်။

၁၁။ ဝန်ထမ်းသက်သာ ချောင်ချိရေးအစီအစဉ်၊ လုပ်ငန်းခွင်အတွင်း လုံခြုံမှု ထားရှိရေး အစီအစဉ်၊ ပတ်ဝန်းကျင် ထိန်းသိမ်းရေး အစီအစဉ်၊ မီးဘေးကြိုတင်ကာကွယ်ရေး စီမံချက်နှင့် CSR Project တို့ကို တင်ပြထားပါသည်။

၁၂။ အဆိုပြုချက်စိစစ်ရေးအဖွဲ့၏ ၂၀၁၉ ခုနှစ် ဇွန် ၁၀ ရက်နေ့တွင် ကျင်းပပြုလုပ်သည့် ၂၀/၂၀၁၉ ကြိမ်မြောက် အစည်းအဝေးသို့ တင်ပြခဲ့ပြီးဖြစ်ပါသည်။

**စိစစ်တင်ပြချက်**

၁၃။ အဆိုပြုလုပ်ငန်း ဆောင်ရွက်ခြင်းနှင့် စပ်လျဉ်း၍ အောက်ပါအတိုင်း စိစစ်တင်ပြအပ်ပါသည်-

(က) အဆိုပြုလုပ်ငန်းသည် ဦးစားပေးမြှင့်တင်မည့် ရင်းနှီးမြှုပ်နှံမှု ကဏ္ဍတွင် ပါဝင်ပြီး ISIC Code-0146 တွင် အကျုံးဝင်ပါသည်။

(ခ) အဆိုပြု လုပ်ငန်းဆောင်ရွက်မည့် နေရာသည် ဇုန်(၂)တွင် ပါဝင်ပါသည်။

(ဂ) ရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန၊ မူဝါဒနှင့် ဥပဒေရေးရာဌာနခွဲမှ ကော်မရှင် ခွင့်ပြုမိန့်နှင့် ဆုံးဖြတ်ချက်(မူကြမ်း)အား ဥပဒေနှင့်ညီညွတ်မှုရှိကြောင်း စိစစ်ပြီးဖြစ်ပါသည်။

**ဆုံးဖြတ်ရန်အချက်**

၁၄။ ရခိုင်နှုန်းပြည့်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် Myanmar C.P Livestock Co., Ltd. မှ ဥစား မျိုးကြက် မွေးမြူခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုချက် တင်ပြလာခြင်းကိစ္စအပေါ် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ ခွင့်ပြုမိန့် ထုတ်ပေးရန် သဘောတူ-မတူ။

ဥက္ကဋ္ဌ(ကိုယ်စား)

(မြသူဇာ၊ တွဲဖက်အတွင်းရေးမှူး)

မိတ္တူကို

ရုံးလက်ခံ/မျှောစာတွဲ

နောက်ဆက်တွဲ

တိုင်းဒေသကြီးညွှန်ကြားရေးမှူးရုံး
ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန
ရန်ကုန်တိုင်းဒေသကြီး
ရန်ကုန်မြို့
စာအမှတ်၊ ရက-၁/၃/၄(အီးအိုင်အေ)( ၉၈၄ /၂၀၁၉)
ရက်စွဲ၊ ၂၀၁၉ ခုနှစ်၊ ဇွန်လ ၇ ရက်

သို့

အတွင်းရေးမှူး
ရန်ကုန်တိုင်းဒေသကြီး ရင်းနှီးမြှုပ်နှံမှုကော်မတီ

အကြောင်းအရာ။ **Myanmar C.P. Livestock Company Limited ၏ ဥစားမျိုးကြက် မွေးမြူခြင်း လုပ်ငန်းအပေါ် ပတ်ဝန်းကျင်ဆိုင်ရာသဘောထားမှတ်ချက်ပြန်ကြားခြင်း**

ရည်ညွှန်းချက်။ ရန်ကုန်တိုင်းဒေသကြီး ရင်းနှီးမြှုပ်နှံမှုကော်မတီ၏ ၂၇-၅-၂၀၁၉ ရက်စွဲပါစာအမှတ်၊ ရကတ/ ရမန - ၂/ ၂၀၁၉ (၃၃၇)

၁။ အကြောင်းအရာပါကိစ္စနှင့်ပတ်သက်၍ Myanmar C.P. Livestock Company Limited သည် ရန်ကုန်တိုင်းဒေသကြီး၊ လှည်းကူးမြို့နယ်၊ ကြာအင်းကျေးရွာအုပ်စု၊ ဟင်းသီးဟင်းရွက် စိုက်ပျိုးထုတ်လုပ်ရေးနှင့် ကြက်/ ငါး မွေးမြူရေး အထူးဇုန် (၃)၊ စီ (၈) လမ်း၊ အကွက်အမှတ် (၁၂၈/ ၁၂၉) တွင် ရာနှုန်းပြည့် နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် အကောင်အထည်ဖော်ဆောင်ရွက်မည့် ဥစားမျိုးကြက် မွေးမြူခြင်းလုပ်ငန်းနှင့်ပတ်သက်၍ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု နည်းဥပဒေ အပိုဒ် - ၇၁ အရ အတည်ပြုလွှာအား လက်ခံခြင်း၊ ငြင်းပယ်ခြင်းကို ရင်းနှီးမြှုပ်နှံသူထံသို့ ပြန်ကြားရန်နှင့် နည်းဥပဒေ အပိုဒ် - ၇၂ (ခ) တို့အရ အတည်ပြုမိန့် ထုတ်ပေးနိုင်ရေးအတွက် ပတ်ဝန်းကျင်ဆိုင်ရာ သဘောထားမှတ်ချက်ပြန်ကြားပေးနိုင်ပါရန် ရည်ညွှန်းပါစာဖြင့် အကြောင်းကြား လာပါသည်။

၂။ အဆိုပါပေးပို့လာသော စီမံကိန်းအဆိုပြုလွှာအား စိစစ်ရာတွင် အောက်ပါအချက်များကို စိစစ် တွေ့ရှိရပါသည်-

(က) အဆိုပြုလုပ်ငန်းသည် ရင်းနှီးမြှုပ်နှံမှုကာလမှာ နှစ် (၅၀) ဖြစ်ပြီး ကနဦးရင်းနှီးမြှုပ်မှု ကာလမှာ (၃၀) နှစ်နှင့် သက်တမ်းတိုးကာလမှာ (၁၀) နှစ် (၂) ကြိမ်ဖြစ်ကာ တည်ဆောက်ပြင်ဆင်ရေးကာလမှာ (၁) နှစ်ဖြစ်ကြောင်း၊

(ခ) အဆိုပြုလုပ်ငန်းသည် ထိုင်းနိုင်ငံသား (၁) ဦးမှ ရင်းနှီးမြှုပ်နှံမှုပမာဏ မြန်မာကျပ်ငွေ သန်းပေါင်း (၆၀) ဖြင့် ဖက်စပ်ရင်းနှီးမြှုပ်နှံမှုလုပ်ငန်းဖြစ်ကြောင်း၊

(ဂ) အဆိုပြုလုပ်ငန်းသည် ရင်းနှီးမြှုပ်နှံမှုနှင့် ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန၏ ၆-၃-၁၉၉၇ ရက်နေ့တွင် ကုမ္ပဏီမှတ်ပုံတင်လက်မှတ် အမှတ် ၁၄၉၈၃၃၀၈၀ ဖြင့် ကုမ္ပဏီမှတ်ပုံတင် ရရှိထားကြောင်း၊

(ဃ) အဆိုပြုလုပ်ငန်းအား မြေဧရိယာ ၁၀ ဧက (၄၀,၄၆၈.၆ စတုရန်းမီတာ) ပေါ်တွင် လုပ်ငန်းဆောင်ရွက်မည့် အဆောက်အဦများ ဆောက်လုပ်ငှားရမ်း၍ လုပ်ငန်းဆောင်ရွက်မည်ဖြစ်ကြောင်း၊

(င) အဆိုပြုလုပ်ငန်းအတွက် ကြက်မွေးခြံ အကောင် (၂၅,၀၀၀) ဆံ့ ခြံ (၇) ခြံအား အသုံးပြု၍ ဥစားမျိုးကြက် အကောင်ရေ ပထမနှစ်မှ နှစ် (၃၀) အတွင်း ကြက်အကောင်ရေ (၂၁၃,၂၈၀) မှ (၄၂၆,၅၆၃) အထိ တိုးမြှင့် မွေးမြူသွားမည်ဖြစ်ကြောင်း၊

(စ) လုပ်ငန်းအတွက် မရှိမဖြစ်လိုအပ်သော မွေးမြူရေးပစ္စည်း (၂) မျိုး၊ လျှပ်စစ်ပစ္စည်း (၆) မျိုးနှင့် မွေးမြူရေးလုပ်ငန်းအတွက်လိုအပ်သော ပစ္စည်းကိရိယာ (၆) မျိုးတို့အား ပြည်တွင်းမှ ဝယ်ယူတပ်ဆင် အသုံးပြုသွားမည်ဖြစ်ကြောင်း၊

(ဆ) အဆိုပြုလုပ်ငန်းအတွက် လုပ်သားအနေဖြင့် နိုင်ငံသား (ပြည်တွင်း) မှ ဝန်ထမ်း (၃၆) ဦး အား ခန့်အပ်၍ လုပ်ငန်းဆောင်ရွက်သွားမည်ဖြစ်ကြောင်း၊

(ဇ) ဝန်ထမ်းများအတွက် လုပ်ငန်းခွင်လုံခြုံရေးအစီအစဉ်၊ မီးဘေးလုံခြုံရေးအစီအစဉ်နှင့် လုပ်ငန်းခွင်သက်သာချောင်ချိရေး အစီအစဉ်များကိုလည်း ထားရှိဆောင်ရွက်သွားမည်ဖြစ်ကြောင်း၊

(ဈ) လုပ်ငန်းမှ နှစ်စဉ်ရရှိလာမည့် အသားတင်အမြတ်ငွေ၏ ၂ ရာခိုင်နှုန်းကို လူမှုရေးဆိုင်ရာ တာဝန်ခံမှု (Corporate Social Responsibility - CSR) လုပ်ငန်းများတွင် ထည့်ဝင် အသုံးပြုသွားမည်ဖြစ်ကြောင်း။

၃။ ရင်းနှီးမြှုပ်နှံရန် အဆိုပြုလာသော Myanmar C.P. Livestock Company Limited ၏ ဥစားမျိုး ကြက်မွေးမြူခြင်းလုပ်ငန်း ဆောင်ရွက်ခြင်းနှင့်စပ်လျဉ်း၍ အောက်ဖော်ပြပါ ပတ်ဝန်းကျင်ဆိုင်ရာထိခိုက်မှုများ ဖြစ်ပေါ်လာနိုင်ကြောင်း စိစစ်တွေ့ရှိရပါသည်-

(က) ကုန်ကြမ်းများကိုထုတ်လုပ်ခြင်း လုပ်ငန်းအဆင့်ဆင့်မှ စွန့်ပစ်ပစ္စည်းများထွက်ရှိခြင်းနှင့် သန့်စင်ဆေးကြောခြင်းလုပ်ငန်းတို့မှ ရေဆိုးများ ထွက်ရှိခြင်းတို့ကြောင့် ပတ်ဝန်းကျင်ရှိ ရေ၊ လေ၊ မြေ ညစ်ညမ်းမှုများဖြစ်ပေါ်စေနိုင်ခြင်း၊

(ခ) လုပ်ငန်းနှင့်စပ်လျဉ်း၍ လုပ်ငန်းများ ဆောင်ရွက်ရာတွင် လုပ်ငန်းခွင်အတွင်း စူးရှ အနံ့နှင့်အခိုးအငွေ့များထွက်ရှိခြင်း၊ လုပ်ငန်းအဆင့်တိုင်း စက်များအသုံးပြုဆောင်ရွက်ခြင်းနှင့် စက်ပစ္စည်းများ ချို့ယွင်းခြင်းကြောင့် အခန်းအတွင်း/ အပြင် လေထု ညစ်ညမ်းမှု ဖြစ်ပေါ်စေနိုင်ခြင်း၊ လုပ်ငန်းခွင်ဝန်ထမ်းများ၏ ကျန်းမာရေးထိခိုက်မှုများ ဖြစ်ပေါ်နိုင်ခြင်းစသည့် ပတ်ဝန်းကျင်ဆိုင်ရာထိခိုက်မှု ပြဿနာများဖြစ်ပေါ်စေနိုင်ခြင်း၊

(ဂ) ကုန်ကြမ်းများအား စနစ်တကျသိုလှောင်ခြင်းမရှိပါက အနံ့အသက်များ ထွက်ရှိခြင်းနှင့် လုပ်ငန်းလည်ပတ်ခြင်းမှ ထွက်ရှိလာသည့် ဆူညံသံများနှင့် အသံညစ်ညမ်းမှုများကြောင့် အလုပ်သမားများနှင့် စီမံကိန်းစက်ရုံဧရိယာ အနီးတဝိုက်ရှိ ပြည်သူများ၏ ကျန်းမာရေးအား ထိခိုက်မှုဖြစ်စေနိုင်ခြင်း။

၄။ သို့ဖြစ်ပါ၍ Myanmar C.P. Livestock Company Limited ၏ ဥစားမျိုးကြက် မွေးမြူခြင်းလုပ်ငန်း လုပ်ကိုင်ဆောင်ရွက်ခြင်းနှင့်စပ်လျဉ်း၍ အောက်ပါအတိုင်း သဘောထားမှတ်ချက် ပြန်ကြားအပ်ပါသည် -

(က) အဆိုပြုလုပ်ငန်းကြောင့် ဖြစ်ပေါ်လာနိုင်သည့် ပတ်ဝန်းကျင်၊ လူမှုရေးနှင့် ကျန်းမာရေး ထိခိုက်ပျက်စီးမှုများကို လျော့နည်းစေရန်အတွက် လုပ်ငန်းဆိုင်ရာ အချက်အလက်များကို ပြည့်စုံစွာဖော်ပြပြီး လုပ်ငန်းဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်ထိခိုက်မှု အနည်းဆုံးဖြစ်စေသည့် နည်းစနစ်များကို အသုံးပြုရန်နှင့် အဆိုပြုလွှာတွင် ဖော်ပြထားသည့် လူမှုရေးဆိုင်ရာ တာဝန်ခံဆောင်ရွက်မှု (Corporate Social Responsibility – CSR) အတွက် နှစ်စဉ် အသားတင်အမြတ်ငွေ၏ ၂ ရာခိုင်နှုန်းကို အသုံးပြုခြင်း အပါအဝင် ဆောင်ရွက်သွားမည့် ကတိကဝတ်များကို တိတိကျကျ လိုက်နာ အကောင်အထည်ဖော်ဆောင်ရွက်ရန်၊

(ခ) ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်း (Environmental Impact Assessment – EIA) ကို ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်း အပိုဒ် (၄၉)၊ (၆၃) တို့နှင့်အညီဆောင်ရွက်ရန်၊

(ဂ) စီမံကိန်းဆောင်ရွက်မည့် လုပ်ငန်းရှင်အနေဖြင့် ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်း (EIA) အစီရင်ခံစာရေးသားပြုစုရာတွင် ပြဋ္ဌာန်းထုတ်ပြန်ထားပြီးဖြစ်သော ပတ်ဝန်းကျင်ထိန်းသိမ်းရေးဥပဒေ၊ နည်းဥပဒေများ၊ ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်းနှင့် အမျိုးသားပတ်ဝန်းကျင်ဆိုင်ရာ အရည်အသွေး (ထုတ်လွှတ်မှု) လမ်းညွှန်ချက်များတွင် ဖော်ပြပါရှိသည့် လိုက်နာဆောင်ရွက်ရမည့် အချက်များ၊ လုပ်ထုံးလုပ်နည်းများ၊ လမ်းညွှန်ချက်များနှင့်အညီ လိုက်နာ ဆောင်ရွက်ရန်၊

(ဃ) ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်းအပိုဒ် (၄၅) နှင့် (၄၆) တို့အရ စီမံကိန်းအဆိုပြုသူသည် ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းလုပ်ငန်း (EIA) မစတင်မီ အဆိုပါလုပ်ငန်းကို ဆောင်ရွက်မည့် တတိယပုဂ္ဂိုလ် (သို့မဟုတ်) အဖွဲ့အစည်းနှင့်စပ်လျဉ်း၍ သယံဇာတနှင့်သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာန၏ ဆုံးဖြတ်ချက်ရယူရန်၊

(င) ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်းအပိုဒ် (၄၇) မှ အပိုဒ် (၅၄) အထိ ဖော်ပြချက်အရ စီမံကိန်းအဆိုပြုသူသည် နယ်ပယ်အတိုင်းအတာ သတ်မှတ်ခြင်း အစီရင်ခံစာနှင့် ဆောင်ရွက်မည့် လုပ်ငန်းတာဝန်များကို လမ်းညွှန်ချက်များနှင့်အညီ လေ့လာဆန်းစစ်၍ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန၊ သယံဇာတနှင့် သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာနသို့ တင်ပြအတည်ပြုချက် ရယူရန်၊

(စ) အတည်ပြုပြီးသော နယ်ပယ်အတိုင်းအတာ သတ်မှတ်ခြင်းအစီရင်ခံစာပါ အချက်အလက်များအပေါ်အခြေခံ၍ ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်းအပိုဒ် (၆၃) ပါအချက်နှင့်အညီ ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်း အစီရင်ခံစာ (EIA) ကို ရေးဆွဲရန်၊

(ဆ) ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်း (EIA) အစီရင်ခံစာတွင် လေ့လာဆန်းစစ်မှုရလဒ်များကို အခြေခံ၍ စီမံကိန်းဆောင်ရွက်မှုကြောင့် ပတ်ဝန်းကျင်၊ လူမှုရေး ထိခိုက်မှု မဖြစ်ပေါ် စေရေး (သို့မဟုတ်) ထိခိုက်မှုအနည်းဆုံးဖြစ်စေမည့် လုပ်ငန်းဆောင်ရွက်မည့် အစီအစဉ်၊ စွန့်ပစ်ပစ္စည်း စီမံခန့်ခွဲမှုအစီအစဉ်၊ စောင့်ကြည့်လေ့လာမည့်အစီအစဉ်၊ ပတ်ဝန်းကျင်ထိခိုက်မှုလျော့ပါးရေးဆောင်ရွက်မည့် လုပ်ငန်းများအတွက် သုံးစွဲမှုရန်ပုံငွေစသည်တို့ပါဝင်သည့် ပတ်ဝန်းကျင်စီမံခန့်ခွဲမှုအစီအစဉ် (EMP) ကို ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်း လုပ်ထုံးလုပ်နည်းပါ အပိုဒ် (၆၃) အပိုဒ်ခွဲ (ဇ) နှင့်အညီ ရေးဆွဲတင်ပြရန်နှင့် စီမံချက်ပါအတိုင်း အကောင်အထည်ဖော်ဆောင်ရွက်ရန်၊

(ဇ) သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်စပ်လျဉ်း၍ ပတ်ဝန်းကျင်ညစ်ညမ်းမှု မရှိစေရန် သန့်စင်ခန်းများ၊ အမှိုက်ပုံးများအား အလုံအလောက်ထားရှိခြင်း၊ စက်ရုံပတ်ဝန်းကျင် သန့်ရှင်းကောင်းမွန်ရေးအတွက် သင့်တော်မည့် ရေစီးရေလာစနစ်များ၊ ရေနုတ်မြောင်းများကို ရေစီးရေလာ ကောင်းမွန်ရေးအတွက် ပြုပြင်ခြင်း၊ စွန့်ပစ်ပစ္စည်း အစီအမံများ၊ စက်ရုံ ပတ်ဝန်းကျင် စိမ်းလန်းစိုပြည်ရေးအတွက် သစ်ပင်များ စိုက်ပျိုးထားရှိရန်၊ လုပ်ငန်းခွင် လေကောင်းလေသန့် ရရှိစေရေး စီမံဆောင်ရွက်ရန်နှင့် စွန့်ပစ်ပစ္စည်းများကို အမျိုးအစားအလိုက် သတ်မှတ်နေရာများတွင် စွန့်ပစ်မှုစနစ်များထားရှိရန်၊

(ဈ) လုပ်ငန်းအဆင့်တိုင်းမှ ထွက်ရှိလာမည့် စွန့်ပစ်ရေဆိုးများကို စွန့်ပစ်ရေဆိုးသန့်စင်သည့် စနစ်တည်ထောင်၍ အမျိုးသားပတ်ဝန်းကျင်အရည်အသွေး (ထုတ်လွှတ်မှု) စံချိန်စံညွှန်း လမ်းညွှန်ချက်များတွင် သတ်မှတ်ထားသည့် စံချိန်စံညွှန်းနှင့်အညီ စနစ်တကျသန့်စင် စွန့်ပစ်သွားရန်၊

(ည) ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်း (EIA) အစီရင်ခံစာတင်ပြရာတွင် တင်ပြရမည့်အစီအစဉ်အလိုက် လိုအပ်သည့် ပုံစံများ ဖြည့်စွက်၍ သယံဇာတနှင့်သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာနသို့ ပူးတွဲတင်ပြရန်၊

(ဋ) ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့၏ ကြီးကြပ်ကွပ်ကဲမှုဖြင့် လုပ်ငန်းဆောင်ရွက်မည့် နေရာဒေသတွင် နေထိုင်သော ဒေသခံပြည်သူများ၏ ဆန္ဒနှင့် သဘောထားများကိုလည်း ရယူဆောင်ရွက်ရန်။

(ခင်သီတာတင်)
ညွှန်ကြားရေးမှူး
ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန
ရန်ကုန်တိုင်းဒေသကြီး

မိတ္တူကို

ရုံးလက်ခံ၊ မျှောစာတွဲ